MIC

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
# အတည်ပြုမိန့်

ပုံစံ (၅-က)
စာအမှတ် ၁၁၅
ရက်စွဲ ၂၇-၃-၂၀၁၈

အတည်ပြုမိန့်အမှတ် ၁၈၉ /၂၀၁၈ ၂၀၁၈ ခုနှစ် မတ်လ ၂၇ ရက်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ ၂၅ ပုဒ်မခွဲ (ဃ) အရ ဤအတည်ပြုမိန့်ကို ထုတ်ပေးလိုက်သည် -

(၁) **ရင်းနှီးမြှုပ်နှံသူအမည်** ဦးတင်ထွန်း

(၂) **နိုင်ငံသား** မြန်မာ

(၃) **နေရပ်လိပ်စာ** အမှတ် (၂၈၈၊၂၉၀)၊ (၇) လွှာ၊ အခန်းအမှတ် (၇၀၁)၊ ရွှေတိဂုံဘုရားလမ်း၊ ယောမင်းကြီးရပ်ကွက်၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့

(၄) **ပင်မအဖွဲ့အစည်းအမည်နှင့် လိပ်စာ** -

(၅) **ဖွဲ့စည်းရာအရပ်** -

(၆) **ရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းအမျိုးအစား** မော်တော်ဆိုင်ကယ်တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

(၇) **ရင်းနှီးမြှုပ်နှံသည့်အရပ်ဒေသ(များ)** မြေကွက်အမှတ်-JW-070၊မြေတိုင်းရပ်ကွက်အမှတ်-၁၂/ရွှေအင်ကြင်းအနောက်ရပ်၊ ဒက္ခိဏသီရိမြို့နယ်၊ နေပြည်တော်

(၈) **နိုင်ငံခြားမတည်ငွေရင်းပမာဏ** -

(၉) **နိုင်ငံခြားမတည်ငွေရင်းယူဆောင်လာရမည့်ကာလ** -

(၁၀) **စုစုပေါင်းမတည်ငွေရင်းပမာဏ(ကျပ်)** ကျပ်၇၄၇၉.၂၅သန်း(အမေရိကန်ဒေါ်လာ ၁.၁၇သန်းအပါအဝင်)

(၁၁) **တည်ဆောက်မှု/ပြင်ဆင်မှုကာလ** ၁ နှစ်

(၁၂) **အတည်ပြုမိန့်သက်တမ်း** -

(၁၃) **ရင်းနှီးမြှုပ်နှံမှုပုံစံ** မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု

(၁၄) **မြန်မာနိုင်ငံတွင်ဖွဲ့စည်းမည့်ကုမ္ပဏီအမည်** မြန်မာ့စွမ်းအားသစ်မော်တော်ဆိုင်ကယ်ကုမ္ပဏီလီမိတက် (Myanmar New Power Motorcycle Company Limited)

27.3.18

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**
အမှတ် (၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်၊ ရန်ကုန်မြို့

တယ်လီဖုန်း-၀၁-၆၅၈၁၂၈
ဖက်(စ်)- ၀၁-၆၅၈၁၄၁

စာအမှတ်၊ မရက-၃/အ-၄၇/၂၀၁၈( ၀၁၈ )
ရက်စွဲ၊ ၂၀၁၈ ခုနှစ် မတ်လ ၂၄ ရက်

အကြောင်းအရာ။ **မြန်မာ့စွမ်းအားသစ်မော်တော်ဆိုင်ကယ် ကုမ္ပဏီလီမိတက် (Myanmar New Power Motorcycle Company Limited)မှတင်ပြလာသော မော်တော်ဆိုင်ကယ် တပ်ဆင် ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း အတည်ပြုမိန့်အပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ဆုံးဖြတ်ချက်**

ရည်ညွှန်းချက် ။ မြန်မာ့စွမ်းအားသစ်မော်တော်ဆိုင်ကယ် ကုမ္ပဏီ လီမိတက် (Myanmar New Power Motorcycle Company Limited)၏ ၂၀၁၈ ခုနှစ် ဖေဖော်ဝါရီလ ၂၃ ရက်နေ့စွဲပါစာ

၁။ မြန်မာ့စွမ်းအားသစ် မော်တော်ဆိုင်ကယ် ကုမ္ပဏီလီမိတက် (Myanmar New Power Motorcycle Company Limited)မှမြေကွက်အမှတ်-JW-070၊မြေတိုင်းရပ်ကွက်အမှတ်-၁၂/ရွှေအင်ကြင်းအနောက်ရပ်၊ ဒက္ခိဏသီရိမြို့နယ်၊ နေပြည်တော်ရှိ မြေ ၂.၅၂၅ ဧက (၁၀,၂၁၈.၃၂ စတုရန်း မီတာ)တွင် မော်တော်ဆိုင်ကယ် တပ်ဆင်ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာတင်ပြခြင်းအား ၂၀၁၈ ခုနှစ် မတ်လ ၂၀ ရက်နေ့တွင် ကျင်းပပြုလုပ်သော မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ (၄/၂၀၁၈) ကြိမ်မြောက် အစည်းအဝေး၌ တင်ပြခဲ့ရာ ခွင့်ပြုကြောင်း ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ၊ နည်းဥပဒေကို ကျင့်သုံးလျက် မြန်မာ့စွမ်းအားသစ် မော်တော်ဆိုင်ကယ် ကုမ္ပဏီလီမိတက် (Myanmar New Power Motorcycle Company Limited) အားမော်တော်ဆိုင်ကယ်တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်နိုင်ရန်အတွက် အတည်ပြုမိန့် အမှတ်၊ ဝ၈၉/၂၀၁၈ ကို ထုတ်ပေးလိုက်သည်။

၂။ မြန်မာ့စွမ်းအားသစ်မော်တော်ဆိုင်ကယ် ကုမ္ပဏီလီမိတက်(Myanmar New Power Motorcycle Company Limited) အနေဖြင့် ဤခွင့်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ပါအချက်များကို လိုက်နာဆောင်ရွက်ရမည် -

(က) မြန်မာ့စွမ်းအားသစ်မော်တော်ဆိုင်ကယ် ကုမ္ပဏီ လီမိတက် (Myanmar New Power Motorcycle Company Limited)အနေဖြင့် ဤ အတည်ပြုမိန့်အရ မော်တော်ဆိုင်ကယ် တပ်ဆင် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၈)၊ ပုဒ်မ ၇၅၊ ၇၇၊ ၇၈ အရ ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ပြဋ္ဌာန်း ထားသည့်အချက်များနှင့်အညီ ခံစားခွင့်ပြုနိုင်ရန် လျှောက်ထားနိုင်သည်။

(ခ) မြန်မာ့စွမ်းအားသစ်မော်တော်ဆိုင်ကယ် ကုမ္ပဏီ လီမိတက် (Myanmar New Power Motorcycle Company Limited)သည် ဤအတည်ပြုမိန့်အရ လုပ်ငန်းဆောင်ရွက်ရာ

တွင် **ထုတ်လုပ်မှု ရည်မှန်းချက်များကို အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

(ဂ) မြန်မာ့စွမ်းအားသစ်မော်တော်ဆိုင်ကယ် ကုမ္ပဏီ လီမိတက် (Myanmar New Power Motorcycle Company Limited)အနေဖြင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံ မှု ဥပဒေပုဒ်မ ၆၅ နှင့်နည်းဥပဒေအခန်း (၂၀)တို့တွင်ပြဋ္ဌာန်းထားသည့်ရင်းနှီးမြှုပ်နှံသူ၏တာဝန်ဝတ္တရားများ နှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(ဃ) မြန်မာ့စွမ်းအားသစ်မော်တော်ဆိုင်ကယ် ကုမ္ပဏီ လီမိတက် (Myanmar New Power Motorcycle Company Limited)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာအရည်အသွေး (ထုတ်လွှတ်မှု)လမ်းညွှန်ချက်များတွင်ဖော်ပြပါရှိသည့်လိုက်နာဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။

(င) မြန်မာ့စွမ်းအားသစ်မော်တော်ဆိုင်ကယ် ကုမ္ပဏီ လီမိတက် (Myanmar New Power Motorcycle Company Limited)သည် ရင်းနှီးမြှုပ်နှံမှုအား လုပ်ငန်းသက်တမ်းကာလ အတွင်း အခြားပုဂ္ဂိုလ်တစ်ဦးဦးသို့ တစ်ဆင့် ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာ လွှဲပြောင်းခြင်းနှင့် လုပ်ငန်းလွှဲပြောင်းခြင်းတို့ကို မြန်မာ နိုင်ငံရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၇၂ နှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၁ အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ တင်ပြရမည်။

(စ) မြန်မာ့စွမ်းအားသစ်မော်တော်ဆိုင်ကယ် ကုမ္ပဏီ လီမိတက် (Myanmar New Power Motorcycle Company Limited)သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၆ အရ ခွင့်ပြုမိန့် သို့မဟုတ် သက်သာခွင့်ရရှိထားသော ရင်းနှီးမြှုပ်နှံသူသည် နှစ်စဉ် ဘဏ္ဍာရေးနှစ် ကုန်ဆုံးပြီးနောက် သုံးလအတွင်း သတ်မှတ်ချက်ပါ အသေးစိတ်များ ပါရှိသည့် နှစ်စဉ်အစီရင်ခံစာအား သတ်မှတ်ပုံစံဖြင့် ကုမ္ပဏီ၏ ဝက်(ဘ်)ဆိုဒ် (သို့မဟုတ်) ကော်မရှင်ရုံး၏ဝက်ဆိုဒ်သို့တင်ပြရမည်။

(ဆ) မြန်မာ့စွမ်းအားသစ်မော်တော်ဆိုင်ကယ် ကုမ္ပဏီ လီမိတက် (Myanmar New Power Motorcycle Company Limited)သည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု နည်းဥပဒေ ၁၉၇ အရ လုပ်ငန်း ဆောင်ရွက် နေစဉ်အတွင်း လုပ်ငန်းအစီရင်ခံစာ ကို သုံးလလျှင် တစ်ကြိမ် ကော်မရှင်ကသတ်မှတ်တောင်းခံသည့်ပုံစံဖြင့်တင်ပြရမည်။

၃။ မြန်မာ့စွမ်းအားသစ် မော်တော်ဆိုင်ကယ် ကုမ္ပဏီ လီမိတက် (Myanmar New Power Motorcycle Company Limited)သည် အဆိုပြုလုပ်ငန်းဆောင်ရွက်ရာတွင် လုပ်ငန်းသဘာဝအရဖြစ်စေ၊ အခြားလိုအပ်ချက်အရဖြစ်စေ သက်ဆိုင်သည့် ပြည်ထောင်စု ဝန်ကြီးဌာနများ၊ အစိုးရဌာနနှင့် အဖွဲ့အစည်း များမှ လိုင်စင် သို့မဟုတ် ခွင့်ပြုမိန့် ရယူရန် လိုအပ်လျှင်ဖြစ်စေ၊ သက်ဆိုင်ရာဌာနနှင့် မြေငှားရမ်းခြင်း

စာချုပ်ချုပ်ဆိုသည်ဖြစ်စေ၊ မှတ်ပုံတင်ရန် လိုအပ်လျှင်ဖြစ်စေ သက်ဆိုင်ရာဌာန၏ သတ်မှတ်ချက်များနှင့် အညီဆောင်ရွက်ပြီး မိတ္တူ (၅) စုံစီအား ကော်မရှင်သို့ပေးပို့ရမည်။

(ကျော်ဝင်း)

ဥက္ကဋ္ဌ

**အုပ်ချုပ်မှုဒါရိုက်တာ**
**မြန်မာ့စွမ်းအားသစ်မော်တော်ဆိုင်ကယ်ကုမ္ပဏီလီမိတက်**
**(Myanmar New Power Motorcycle Company Limited)**

**ဖြန့်ဝေခြင်း**

ပြည်ထဲရေးဝန်ကြီးဌာန

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန

အလုပ်သမား၊ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စက်မှုဝန်ကြီးဌာန

စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

စီမံကိန်းနှင့်ဘဏ္ဍာရေးဝန်ကြီးဌာန

နေပြည်တော်ကောင်စီရင်းနှီးမြှုပ်နှံမှုကော်မတီ

နေပြည်တော်ကောင်စီ

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ အမှတ်(၁)အကြီးစားစက်မှုဝန်ကြီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့် အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ စက်မှုကြီးကြပ်ရေးနှင့် စစ်ဆေးရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အမျိုးသားမှတ်တမ်းများမော်ကွန်းတိုက်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

နေပြည်တော်ကောင်စီ၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန

ကန့်သတ်

အကြောင်းအရာ။ **မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာ့စွမ်းအားသစ် မော်တော်ဆိုင်ကယ်ကုမ္ပဏီလီမိတက်မှ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မော်တော်ဆိုင်ကယ်တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြုလျှောက်ထားလွှာတင်ပြခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ရင်းနှီးမြှုပ်နှံသူ | - မြန်မာ့စွမ်းအားသစ်မော်တော်ဆိုင်ကယ်ကုမ္ပဏီလီမိတက်<br>- ဦးတင်ထွန်း |
| | ရင်းနှီးမြှုပ်နှံမှုပုံသဏ္ဌာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု<br>- ဦးတင်ထွန်း (၆၀%)<br>- ဒေါ်သင်းသင်းအောင် (၄၀%) |
| | လုပ်ငန်းအမျိုးအစား | - မော်တော်ဆိုင်ကယ်တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ်-JW-070၊မြေတိုင်းရပ်ကွက်အမှတ်-၁၂/<br>ရွှေအင်ကြင်းအနောက်ရပ်၊ ဒက္ခိဏသီရိမြို့နယ်၊ နေပြည်တော် |
| ၃။ | မြေပိုင်ရှင်<br>မြေ/အဆောက်အဦ<br>အကျယ်အဝန်း | - ဦးတင်ထွန်း<br>- ၂.၅၂၅ ဧက (၁၀,၂၁၈.၃၂ စတုရန်းမီတာ)<br>- ၈၀,၈၀၁ စတုရန်းပေ တစ်ထပ်အဆောက်အဦ ၁လုံး (စက်ရုံ)<br>- ၅၂၈ စတုရန်းပေ တစ်ထပ်အဆောက်အဦ ၁ လုံး (အရောင်းပြခန်း)<br>- ၄,၉၅၀ စတုရန်းပေ သုံးထပ်အဆောက်အဦ ၁ လုံး (ရုံးခန်း)<br>- ၂,၂၄၀ စတုရန်းပေ နှစ်ထပ်အဆောက်အဦ ၁ လုံး (ဝန်ထမ်းအိမ်ယာ)<br>- ၂,၇၂၀ စတုရန်းပေ သုံးထပ်အဆောက်အဦ ၁ လုံး (ဝန်ထမ်းအိမ်ယာ)<br>**စုစုပေါင်း ၅ လုံး** |
| | နှစ်စဉ်မြေ/အဆောက်အဦ ငှားရမ်းခ | - **ရင်းနှီးမြှုပ်နှံသူပိုင်ဆိုင်သည့်မြေတွင် ဆောင်ရွက်ခြင်းဖြစ်ပါသည်။** |
| | မြေ/အဆောက်အအုံ ငှားရမ်း/<br>အသုံးပြုခွင့်သက်တမ်း | - ။ |
| ၄။ | ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း | - ။ |
| ၅။ | တည်ဆောက်မှုကာလ | - ၁ နှစ် |

ကန့်သတ်

**၆။ စုစုပေါင်းမတည်ငွေရင်း ပမာဏ**

- ကျပ်၇၄၇၉.၂၅ သန်း (US$ ၁.၁၇ သန်း အပါအဝင်)

| | မြန်မာ (ကျပ်/သန်း) | နိုင်ငံခြား (US$/သန်း) | စုစုပေါင်း (ကျပ်/သန်း) |
|---|---|---|---|
| ငွေသား | ၄၀၇၃.၉၇ | - | ၄၀၇၃.၉၇ |
| စက်နှင့်စက်ကိရိယာတန်ဖိုး (ပြည်ပ) | - | ၁.၀၆ | ၁၄၃၆.၄၀ |
| စက်နှင့်စက်ကိရိယာတန်ဖိုး (ပြည်တွင်း) | - | ၀.၁၁ | ၁၄၆.၆၇ |
| မြေ၊အဆောက်အဦကုန်ကျစရိတ် | ၁၈၂၂.၂၁ | - | ၁၈၂၂.၂၁ |
| **စုစုပေါင်း** | **၅၈၉၆.၁၈** | **၁.၁၇** | **၇၄၇၉.၂၅** |

**၇။ ရောင်းချမည့်နည်းစနစ်**

- ပြည်တွင်း ၁၀၀%

**၈။ ထုတ်လုပ်မှုနှင့်ရောင်းဈေးနှုန်း (ပထမနှစ်)**

| | **ထုတ်လုပ်မှု အရေအတွက် (စီးရေ)** | **ရောင်းဈေးနှုန်း (US$/၁ စီးနှုန်း)** |
|---|---|---|
| Two –Wheel Motorcycle with 110-CC | ၄၀,၀၀၀ | ၂၅၃ |
| Two –Wheel Motorcycle with 125-CC | ၄၀,၀၀၀ | ၂၆၇ |

**၉။ အခြားတင်ပြချက်**

| | **ပြည်တွင်း** | **ပြည်ပ** |
|---|---|---|
| **အရေအတွက်** | ၁၂၈ ဦး | ၃ ဦး |
| **အမြင့်ဆုံးလစာ** | ကျပ် ၁,၂၀၀,၀၀၀ | US$ ၁,၅၀၀ |
| **အနိမ့်ဆုံးလစာ** | ကျပ် ၁၅၀,၀၀၀ | US$ ၁,၀၀၀ |

- ၁ US$ = ၁၃၅၀ ကျပ် နှုန်းဖြင့် တွက်ချက်ထားပါသည်။

- Chong Qing Fufa Power Technology Co., Ltd. မှ မြန်မာ့စွမ်းအားသစ် မော်တော်ဆိုင်ကယ် ကုမ္ပဏီလီမိတက်သို့ Brand အသုံးပြုခွင့်ပေးထားသည့် Authorized Certificate (မိတ္တူ) အား တင်ပြထားပါသည်။

ကန့်သတ်

| | | |
|---|---|---|
| ၁၀။ | စိစစ်တင်ပြချက် | - ငွေကြေးအထောက်အထားအဖြစ် ရင်းနှီးမြှုပ်နှံသူ ဦးတင်ထွန်း အမည်ဖြင့် Ayeyarwady Bank Limited တွင် ၈-၃-၂၀၁၈ ရက်စွဲဖြင့်ငွေကျပ်၆၉,၀၀၁,၃၇၆.၀၀ရှိကြောင်းတင်ပြထားပါသည်။<br>- NEW POWER ၊ SUPER THAI ၊ TARYAN စသည့် ကုန်အမှတ် တံဆိပ်များအား မှတ်ပုံတင်ထားသည့် အထောက်အထားများ တင်ပြထားပါသည်။<br>- ကုန်ကြမ်းများအား တရုတ်ပြည်သူ့သမ္မတနိုင်ငံမှ တင်သွင်းမည် ဖြစ်ပါသည်။<br>- နှစ်စဉ် ပြည်ပမှ ကုန်ကြမ်းရယူမည့် အစီအစဉ်၊ နှစ်အလိုက် ထုတ်လုပ်မှုအစီအစဉ်များနှင့် သွင်းကုန်အစားထိုး စီမံချက်များအား **ပူးတွဲ**ဖြင့် တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေး မြှင့်တင်မည့် ကဏ္ဍ တွင် ပါဝင်ပြီး ISIC 3091 တွင် အကျုံးဝင်ပါသည်။<br>- အဆိုပြု လုပ်ငန်းသည် ဖွံ့ဖြိုးတိုးတက်မှုဇုန်(၂)တွင် ပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်။ |

# သွင်းကုန်အစားထိုးစီမံချက်

Two –Wheel Motorcycle with 110-CC Engine

Two –Wheel Motorcycle with 125-CC Engine

| | ပြည်တွင်း ထုတ်လုပ်မည့်အစိတ်အပိုင်းများ | | ပြည်တွင်း SME လုပ်ငန်းရှင်များသို့အပ်နှံ၍ ထုတ်လုပ်မည့်အစိတ်အပိုင်းများ | | ပြည်ပမှတင်သွင်းမည့် အစိတ်အပိုင်းများ | | စုစုပေါင်း ရာခိုင်နှုန်း |
|---|---|---|---|---|---|---|---|
| နှစ်အလိုက် | အမျိုးအစား | ရာခိုင်နှုန်း | အမျိုးအစား | ရာခိုင်နှုန်း | အမျိုးအစား | ရာခိုင်နှုန်း | |
| Year 1-3 | အစိတ်အပိုင်းများ အားလုံး | ၀% | အစိတ်အပိုင်းများ အားလုံး | ၀% | အစိတ်အပိုင်းများ အားလုံး | ၁၀၀% | ၁၀၀% |
| Year 4-5 | ထိုင်ခုံ/လက်ကိုင်/ ဒူးကာများ | ၁၅.၅၀% | ကြည့်မှန်/ မီးသီးများ | ၈.၅၂% | ကျန်အစိတ်အပိုင်းများ | ၇၅.၉၈% | ၁၀၀% |
| Year 6-7 | ထိုင်ခုံ/လက်ကိုင်/ ဒူးကာများ /ဘော်ဒီ အစိတ်အပိုင်းများ | ၂၂.၁၇% | ကြည့်မှန်/ မီးသီးများ/ တာယာများ/ဆီတိုင်ကီများ/ ဝှေများ | ၃၅.၂၇% | ကျန်အစိတ်အပိုင်းများ | ၄၂.၅၆% | ၁၀၀% |
| Year 8-15 | ထိုင်ခုံ/လက်ကိုင်/ ဒူးကာများ /ဘော်ဒီ အစိတ်အပိုင်းများ /ဒေါက်များ | ၂၂.၃၅% | ကြည့်မှန်/ မီးသီးများ/ တာယာများ/ဆီတိုင်ကီများ/ ဝှေများ/တာယာများ | ၅၃.၁၄% | ဆိုင်ကယ်အင်ဂျင် | ၂၄.၅၁% | ၁၀၀% |

ကန့်သတ်

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊မရက-၃/အ-၄၇/၂၀၁၈( ၀၁၄ )
ရက်စွဲ၊ ၂၀၁၈ ခုနှစ် မတ်လ ၉ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြမည့် အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသား ရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာ့စွမ်းအားသစ် မော်တော်ဆိုင်ကယ် ကုမ္ပဏီလီမိတက်မှ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ မော်တော်ဆိုင်ကယ် တပ်ဆင် ထုတ်လုပ် ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အတည်ပြု လျှောက်ထားလွှာတင်ပြခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံသား ဦးတင်ထွန်း မှ ၆၀% နှင့် ဒေါ်သင်းသင်းအောင် မှ ၄၀% ထည့်ဝင်၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာ့စွမ်းအားသစ် မော်တော်ဆိုင်ကယ် ကုမ္ပဏီလီမိတက်မှ မြေကွက် အမှတ်-JW-070၊ မြေတိုင်းရပ်ကွက်အမှတ်-၁၂/ရွှေအင်ကြင်းအနောက်ရပ်၊ ဒက္ခိဏသီရိ မြို့နယ်၊ နေပြည်တော်ရှိမြေဧရိယာ၂.၅၂၅ဧက (၁၀,၂၁၈.၃၂ စတုရန်းမီတာ) တွင် မော်တော်ဆိုင်ကယ် တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်သို့ ရည်ညွှန်းပါစာဖြင့် တင်ပြလာပါသည်။

၂။ အတည်ပြုချက်နှင့်အတူ မြေဆိုင်ရာ အထောက်အထားများ၊ အဆောက်အဦစာတပ်ပုံများ၊ ထုတ်လုပ်မှု ပစ္စည်းနမူနာစာတပ်ပုံများ၊ ကုမ္ပဏီမှတ်ပုံတင် လက်မှတ်(မိတ္တူ)၊ သင်းဖွဲ့မှတ်တမ်း၊ သင်းဖွဲ့ စည်းမျဉ်းနှင့် နိုင်ငံသားစိစစ်ရေးကဒ်(မိတ္တူ)တို့ကို တင်ပြထားပါသည်။

၃။ အဆိုပြုရင်းနှီးမြှုပ်နှံမှုလုပ်ငန်းအား ရင်းနှီးမြှုပ်နှံသူပိုင်ဆိုင်သည့် မြေတွင်ဆောင်ရွက်ခြင်း ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ်ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၄။ လုပ်ငန်း၏ စုစုပေါင်း မတည်ငွေရင်းပမာဏမှာ ကျပ်၇၄၇၉.၂၅ သန်း (US$ ၁.၁၇ သန်း အပါအဝင်)ဖြစ်ပါသည်။ မတည်ငွေရင်းထည့်ဝင်မှုများမှာအောက်ပါအတိုင်းဖြစ်ပါသည်-

| | မြန်မာ (ကျပ်/သန်း) | နိုင်ငံခြား (US$/သန်း) | စုစုပေါင်း (ကျပ်/သန်း) |
|---|---|---|---|
| ငွေသား | ၄၀၇၃.၉၇ | - | ၄၀၇၃.၉၇ |
| စက်နှင့်စက်ကိရိယာတန်ဖိုး (ပြည်ပ) | - | ၁.၀၆ | ၁၄၃၆.၄၀ |
| စက်နှင့်စက်ကိရိယာတန်ဖိုး (ပြည်တွင်း) | - | ၀.၁၁ | ၁၄၆.၆၇ |
| အဆောက်အဦကုန်ကျစရိတ် | ၁၈၂၂.၂၁ | - | ၁၈၂၂.၂၁ |
| **စုစုပေါင်း** | ၅၈၉၆.၁၈ | ၁.၁၇ | ၇၄၇၉.၂၅ |

၅။ လုပ်ငန်းဆောင်ရွက်ရန်အတွက် ပထမနှစ်တွင် ပြည်တွင်းမှ ဝန်ထမ်း ၁၂၈ ဦး နှင့် ပြည်ပ ဝန်ထမ်း ၃ ဦး ခန့် ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ကျပ်

ကန့်သတ်

၁၅၀,၀၀၀ နှင့် အမြင့်ဆုံးလစာ ကျပ် ၁,၂၀၀,၀၀၀ ဖြစ်ပါသည်။ ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာအမေရိကန်ဒေါ်လာ ၁,၀၀၀ နှင့် အမြင့်ဆုံးလစာမှာ အမေရိကန်ဒေါ်လာ ၁,၅၀၀ ဖြစ်ပါသည်။

၆။ လုပ်ငန်းမှထွက်ရှိသော မော်တော်ဆိုင်ကယ်များကို ပြည်တွင်းတွင် ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ်(ပထမနှစ်)၏ ထုတ်လုပ်မှုအရေအတွက်နှင့် ဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

| စဉ် | အမျိုးအစား | ထုတ်လုပ်မှု အရေအတွက် (စီးရေ) | ရောင်းဈေးနှုန်း (US$/၁ စီးနှုန်း) |
|---|---|---|---|
| (က) | Two –Wheel Motorcycle with 110-CC | ၄၀,၀၀၀ | ၂၅၃ |
| (ခ) | Two –Wheel Motorcycle with 125-CC | ၄၀,၀၀၀ | ၂၆၇ |

၇။ ငွေကြေးအထောက်အထားအဖြစ် ရင်းနှီးမြှုပ်နှံသူ ဦးတင်ထွန်း အမည်ဖြင့် Ayeyarwady Bank Limited တွင် ၈-၃-၂၀၁၈ ရက်စွဲဖြင့် ငွေကျပ်၆၉,၀၀၁,၃၇၆.၀၀ ရှိကြောင်း တင်ပြထားပါသည်။

**စိစစ်တင်ပြချက်**

၈။ (က) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာ ဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)အား ဥပဒေနှင့် ညီညွတ်မှုရှိကြောင်း စိစစ်ပြီး ဖြစ်ပါသည်။

(ခ) စက်ရုံ၌ အလုပ်သမားများအတွက် သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေးကြိုတင် ကာကွယ်ရေးစီမံချက်နှင့် Corporate Social Responsibility (CSR) အစီအစဉ်များကို လည်းတင်ပြထားပါသည်။

(ဂ) အတည်ပြုလုပ်ငန်းသည် ရင်းနှီးမြှုပ်နှံမှု ဦးစားပေး မြှင့်တင်မည့်ကဏ္ဍတွင်ပါဝင်ပြီး ဖွံ့ဖြိုးမှုရှိသောဒေသများဇုန်(၂)တွင် ပါဝင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

(ဃ) မော်တော်ဆိုင်ကယ် တပ်ဆင်ထုတ်လုပ်ရာတွင် ပြည်ပမှ တင်သွင်းမည့် ရာခိုင်နှုန်းနှင့် ပြည်တွင်းတွင် ထုတ်လုပ်မည့် ရာခိုင်နှုန်းများ၊ ပြည်တွင်းရှိ SME လုပ်ငန်းရှင်များနှင့် ချိတ်ဆက်၍ မော်တော်ယာဉ်အစိတ်အပိုင်းအချို့အား ထုတ်လုပ်သွားမည့် သွင်းကုန်အစားထိုးစီမံချက်အားတင်ပြထားပါသည်။

(င) Chong Qing Fufa Power Technology Co., Ltd. မှ မြန်မာ့စွမ်းအားသစ် မော်တော်ဆိုင်ကယ် ကုမ္ပဏီလီမိတက်သို့ Brand အသုံးပြုခွင့် ပေးထားသည့် Authorized Certificate (မိတ္တူ) အား တင်ပြထားပါသည်။

(စ) NEW POWER ၊ SUPER THAI ၊ TARYAN စသည့် ကုန်အမှတ်တံဆိပ်များအား မှတ်ပုံတင်ထားသည့် အထောက်အထားများ တင်ပြထားပါသည်။

(ဆ) မော်တော်ဆိုင်ကယ် တပ်ဆင်ထုတ်လုပ်ခြင်းလုပ်ငန်းအတွက် ကုန်ကြမ်းများအား တရုတ်ပြည်သူ့ သမ္မတနိုင်ငံမှ မှာယူတင်သွင်းမည် ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၀။ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာ့စွမ်းအားသစ် မော်တော်ဆိုင်ကယ် ကုမ္ပဏီလီမိတက်မှ မော်တော်ဆိုင်ကယ် တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့် စပ်လျဉ်း၍ အတည်ပြုမိန့် ထုတ်ပေးရန် သဘောတူ-မတူ။

ဉက္ကဋ္ဌ( ကြံ့ခိုင်ထား )
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ



MNP (MIC memo)

ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC (OSS)/ ၀၁(၂၀/၁၈ )
ရက်စွဲ၊ ၂၀၁၈ ခုနှစ်၊ မတ်လ ၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

M.192
7/3/18

အကြောင်းအရာ။ **မြန်မာ့စွမ်းအားသစ်မော်တော်ဆိုင်ကယ်ကုမ္ပဏီလီမိတက်မှ မော်တော်ဆိုင်ကယ်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၃-၂-၂၀၁၈ ရက်စွဲပါစာအမှတ်၊ မရက-၃/ အ-၄၇/ ၂၀၁၈(၀၁၂)

၁။ မြန်မာနိုင်ငံသား ဦးတင်ထွန်းမှ ၆၀% နှင့် ဒေါ်သင်းသင်းအောင်မှ ၄၀% ထည့်ဝင်၍ မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာ့စွမ်းအားသစ်မော်တော်ဆိုင်ကယ် ကုမ္ပဏီလီမိတက်မှ မြေကွက်အမှတ်-JW-070၊ မြေတိုင်းရပ်ကွက်အမှတ်-၁၂/ ရွှေအင်ကြင်းအနောက်ရပ်၊ ဒက္ခိဏသီရိမြို့နယ်၊ နေပြည်တော်ရှိမြေဧရိယာ ၂.၅၂၅ ဧက (၁၀,၂၁၈.၃၁ စတုရန်းမီတာ) တွင် မော်တော်ဆိုင်ကယ် ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာအဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များကို လေ့လာတွေ့ရှိရပါသည် -

(က) ပေးပို့လာသောအဆိုပြုလွှာတွင်ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာနှစ်(၅၀) ဖြစ်ပြီး၊ သက်တမ်းတိုး (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်မည်ဖြစ်ကာ၊ တည်ဆောက်ရေးကာလမှာ (၁) နှစ်ဖြစ်ကြောင်း၊

(ခ) အဆိုပြုလုပ်ငန်းအား မြေ(၁၀,၂၁၈.၃၁ စတုရန်းမီတာ) တွင် Factory, Office, Show-room နှင့် Staff Housing (၂) လုံး၊ စုစုပေါင်း အဆောက်အဦ (၅) တည်ဆောက်ကာလုပ်ငန်းဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဂ) နေပြည်တော်စည်ပင်သာယာရေးကော်မတီ၊ မြို့ပြစီမံကိန်းနှင့်မြေစီမံခန့်ခွဲမှုဌာနနှင့် ဦးတင်ထွန်းတို့အကြား ချုပ်ဆိုထားသည့် မြေငှားစာချုပ် ဖော်ပြပါရှိပါကြောင်း၊

(ဃ) ထုတ်လုပ်မှုအနေဖြင့် ပထမနှစ်တွင် Two Wheeled Motorcycle with 110-CC, 125-CC အစီးရေစုစုပေါင်း (၈၀၀၀၀) မှအနှစ် (၂၀) အတွင်း အစီးရေစုစုပေါင်း (၂၀၀၀၀၀) ထိ တပ်ဆင် ထုတ်လုပ်ရောင်းချသွားမည် ဖြစ်ကြောင်း၊

(င) နိုင်ငံခြားငွေသုံးစွဲမှု လျော့ချရန်နှင့် နည်းပညာ လွှဲပြောင်းနိုင်ရေးအတွက် ပြည်တွင်း၌ဆိုင်ကယ် အစိတ်အပိုင်းများကို နှစ်အလိုက်တိုးမြှင့် ထုတ်လုပ်သွားနိုင်အောင် ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(စ) ဝန်ထမ်းများ သက်သာချောင်ချိရေး အစီအစဉ်များ၊ မီးဘေး ကြိုတင်ကာကွယ်ရေး အစီအမံများကိုလည်းထားရှိ ဆောင်ရွက်သွားမည် ဖြစ်ကြောင်း၊

(ဆ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ်ငွေ၏ (၂%) ကို လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility-CSR) လုပ်ငန်းများတွင်ထည့်ဝင်အသုံးပြုသွားမည် ဖြစ်ကြောင်း၊

(ဇ) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ ကနဦးပတ်ဝန်းကျင်ထိခိုက်မှုလေ့လာဆန်းစစ်ခြင်းပြုလုပ်ပြီး လိုအပ်သည့်စောင့်ကြည့်လေ့လာမှုအစီအစဉ်၊ လုပ်ငန်းအတွက်သုံးစွဲမည့် ရံပုံငွေစသည်တို့ပါဝင်သည့် စီမံခန့်ခွဲမှုအစီအစဉ်ကိုရေးဆွဲပြီး စီမံချက်ပါအတိုင်းအကောင်အထည်ဖော် ဆောင်ရွက်သွားမည်ဖြစ်ကြောင်းနှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာနမှထုတ်ပြန်ထားသော ဥပဒေ၊ နည်းဥပ ဒေ၊ လုပ်ထုံး /လုပ်နည်း၊ အမိန့်နှင့်ညွှန်ကြားချက်များကို လိုက်နာ ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ လုပ်ငန်းလည်ပတ်ဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ အောက်ဖော်ပြပါ ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုများဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည်-

(က) မြန်မာ့စွမ်းအားသစ်မော်တော်ဆိုင်ကယ် ကုမ္ပဏီလီမိတက်မှ မော်တော်ဆိုင်ကယ်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် လိုအပ်သည့်အစိတ်အပိုင်းများကို ပြည်ပမှမှာယူတင်သွင်းပြီး စက်ရုံ၌ တပ်ဆင်ခြင်းလုပ်ငန်းများကို ဆောင်ရွက်မည်ဖြစ်ခြင်းကြောင့် လုပ်ငန်းတစ်ခုလုံး၏ အဆင့်တိုင်းတွင်စက်များကို အသုံးပြုဆောင်ရွက်ရမည်ဖြစ်သဖြင့် အသံဆူညံခြင်း၊

(ခ) ဂဟေဆော်ခြင်းနှင့် စက်ပစ္စည်းကိရိယာများမှ ထွက်ရှိလာမည့် အခိုး၊ အငွေ့၊ အနံ့အသက်များနှင့် ဆေးမှုတ်ခြင်းလုပ်ငန်းများမှ ထွက်ရှိလာမည့် အနံ့အသက်များကြောင့် လေထုညစ်ညမ်းခြင်း၊ လုပ်ငန်းခွင်လုပ်သားများတွင် မျက်စေ့နှင့် အသက်ရှူလမ်းကြောင်းဆိုင်ရာ ရောဂါများဖြစ်ပွားစေနိုင်ပြီး ပတ်ဝန်းကျင်ရှိ ပြည်သူလူထုအားအနှောင့်အယှက်ဖြစ်စေနိုင်ခြင်း၊

(ဂ) အလုပ်ရုံမှထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများဖြစ်သော စွန့်ပစ်အရည်/အစိုင်အခဲများကြောင့် ပတ်ဝန်းကျင် ညစ်ညမ်းစေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှု ပြဿနာများဖြစ်ပေါ်နိုင်ခြင်း၊

(ဃ) အဆိုပြုလုပ်ငန်းအတွက် အဆောက်အဦ တည်ဆောက်မည်ဖြစ်ပြီး အဆိုပါအဆောက်အဦ တည်ဆောက်ရာတွင် ပစ္စည်းသယ်ယာဉ်များ၊ စက်ယန္တရားများ အသုံးပြုခြင်းကြောင့် ပတ်ဝန်းကျင်ရှိ မြေထုနှင့်လေထုတို့အား ညစ်ညမ်းမှုများနှင့် အသံဆူညံမှုများဖြစ်ပေါ်စေနိုင်ခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှု ပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ မြန်မာ့စွမ်းအားသစ်မော်တော်ဆိုင်ကယ် ကုမ္ပဏီလီမိတက်မှ မော်တော်ဆိုင်ကယ်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာဆောင်ရွက်ရမည့်လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကိုပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%) ကို အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များကို တိတိကျကျလိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းကြောင့်ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးအတွက် **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination-IEE)** ကိုဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များပါအတိုင်း အစီရင်ခံစာရေးသားတင်ပြရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှု ရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့်အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေးဆောင်ရွက်မည့် လုပ်ငန်းများအတွက်သုံးစွဲမည့် ရန်ပုံငွေစသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP)** ကို ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ဃ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်များ၊ အစီရင်ခံစာများ ရေးသားပြုစုရာတွင် ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့်

လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့် အညီ လိုက်နာဆောင်ရွက်ရန်၊

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့်နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်း ရယူဆောင်ရွက်ရန်။

6/2/18

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင် (ပတ်ဝန်းကျင်)
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ နေပြည်တော်ကော်စီနယ်မြေ
ရုံးလက်ခံ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ

အရ

မြန်မာ့စွမ်းအားသစ်မော်တော်ဆိုင်ကယ်ကုမ္ပဏီလီမိတက်

**MYANMAR NEW POWER MOTORCYCLE COMPANY LIMITED**

မှ

မြေကွက်အမှတ် - JW -070

မြေဧက - ၂.၅၂၅ ပေါ်တွင်

မော်တော်ဆိုင်ကယ်တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်း

'အတည်ပြုလွှာ တင်ပြချက်'

**Myanmar New Power Motorcycle Company Limited**

မော်တော်ဆိုင်ကယ်တပ်ဆင်ထုတ်လုပ်ရောင်းချမည့်ရင်းနှီးမြုပ်နှံမှုလုပ်ငန်း

အတည်ပြုလွှာတင်ပြချက်

**အညွှန်း**

**Myanmar New Power Motorcycle Company Limited**

Address : No.517(11/783), 78th Street , Near Industrial Park, Ahyartaw Quarter, Pyi Gyi Tagun Township, Mandalay, Myanmar.

Tel : +95 9 452333126
+95 9 785188888

Email : ho.newpower@gmail.com

MYANMAR NEW POWER MOTORCYCLE CO., LTD.
No............
Date..........

သို့
ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်မြို့။

ရက်စွဲ။ ။၂၀၁၈ ခုနှစ်၊ ဖေဖော်ဝါရီလ ( ၂၃ )ရက်

အကြောင်းအရာ။ ။ မော်တော်ဆိုင်ကယ်တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ရင်းနှီး၊ မြှုပ်နှံ လုပ်ကိုင်ဆောင်ရွက်ခွင့် ပေးပါရန် တင်ပြခြင်း။

အထက်ဖော်ပြပါကိစ္စနှင့်စပ်လျဉ်း၍ ကျွန်တော်များ မြန်မာနိုင်ငံသား၊တိုင်းရင်းသား လုပ်ငန်းရှင် များမှ ပိုင်ဆိုင်သော မြန်မာ့စွမ်းအားသစ် မော်တော်ဆိုင်ကယ် ကုမ္ပဏီလီမိတက် (Myanmar New Power Motorcycle Company Limited) မှ နေပြည်တော်၊ဒက္ခိဏသီရိမြို့နယ်၊ မြေကွက်အမှတ်-JW 070၊ မြေဧက ၂.၅၂၅ ပေါ်တွင် မော်တော်ဆိုင်ကယ်တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ရင်းနှီး၊ မြှုပ်နှံ လုပ်ကိုင်မည် ဖြစ်ပါသည်။ဤသို့ ရင်းနှီးမြှုပ်နှံသော လုပ်ငန်းရပ်မှ မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင်၊ အခွင့်အ လမ်း များ ရရှိစေခြင်း၊နိုင်ငံတော်တွင်အခွန်အခများရရှိစေခြင်းနှင့်နိုင်ငံခြားသွင်းကုန်ဖြစ်သောမော်တော်ဆိုင်ကယ်များအား နိုင်ငံခြားသွင်းကုန်အစားထိုး ရောင်းချနိုင်သည့် နိုင်ငံတကာအဆင့်မီ မော်တော်ဆိုင်ကယ်များကို မြန်မာနိုင်ငံသားများမှ ဈေးနှုန်းသက်သာစွာ ဝယ်ယူသုံးစွဲနိုင်ခြင်းစသည့် အခွင့်အရေးများ ရရှိနိုင်မည့်လုပ်ငန်းရပ်အား မြန်မာနိုင်ငံ ရင်းနှီးမြှုပ်မှုဥပဒေအရ ခွင့်ပြုပေးပါရန် တင်ပြ၊ လျှောက်ထားအပ်ပါသည်။

လေးစားစွာဖြင့်

U Tin Tun
Managing Director
Myanmar New Power Motorcycle Co.,Ltd.

# အတည်ပြုလျှောက်ထားလွှာ

သို့

ဥက္ကဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ NP-MIC-1 / ၁၀၀၇/ ၂၀၁၈
ရက်စွဲ ၊၂၀၁၈ ခုနှစ်၊ဖေဖော်ဝါရီလ၊ ၂၃ ရက်

ကျွန်တော်/ကျွန်မသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုဥပဒေ ပုဒ်မ၃၇ နှင့် အညီအောက်ဖော်ပြပါ အချက်များ အား ဖြည့်စွက်၍ အတည်ပြုလျှောက်ထားလွှာကိုတင်ပြလျှောက်ထားအပ်ပါသည်-

၁။ ရင်းနှီးမြှုပ်နှံသူ၏

| | |
|---|---|
| (က) အမည် | ဦးတင်ထွန်း |
| (ခ) ရင်းနှီးမြှုပ်နှံသူ၏ နိုင်ငံသားစိစစ်ရေးကဒ် | ၁၃/လရန(နိုင်) ၁၀၇၅၅၁ |
| (ဂ) နိုင်ငံသား | မြန်မာနိုင်ငံသား |
| (ဃ) နေရပ်လိပ်စာ/ မှတ်ပုံတင်ထားသည့် ကုမ္ပဏီလိပ်စာ | အမှတ် (၂၈၈/၂၉၀)၊ ( ၇ ) လွှာ အခန်းအမှတ် (၇၀၁)၊ရွှေတိဂုံဘုရားလမ်း၊ ယောမင်းကြီးရပ်ကွက်၊ဒဂုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။ |
| (င) တယ်လီဖုန်း/ဖက်စ်/အီးမေးလ်လိပ်စာ | +95 9 452333126, +95 9 785188888 |
| (စ) လုပ်ငန်းအမျိုးအစား (အသေးစိတ်ဖော်ပြရန်) | မော်တော်ဆိုင်ကယ်တပ်ဆင်ထုတ်လုပ်ရောင်းချခြင်း လုပ်ငန်း။ |

မှတ်ချက်။ အောက်ပါအချက်များကိုပူးတွဲတင်ပြရန် -

(၁) ကုမ္ပဏီမှတ်ပုံတင်အထောက်အထားမိတ္တူ။
(၂) နိုင်ငံသားစိစစ်ရေးကတ်မိတ္တူ။နှင့်နိုင်ငံကူးလက်မှတ်မိတ္တူ။

၂။ ရင်းနှီးမြှုပ်နှံသူကိုယ်တိုင် လျှောက်ထားခြင်းမဟုတ်ပါကလျှောက်ထားသူ၏ -

(က) အမည် (မရှိပါ)
(ခ) ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်
(လျှောက်ထားသူသည် စီးပွားရေးအဖွဲ့အစည်းဖြစ်ပါက)
(ဂ) နိုင်ငံသားစိစစ်ရေးကတ်အမှတ်/နိုင်ငံကူးလက်မှတ်အမှတ်

(ဃ) နိုင်ငံသား

(င) မြန်မာနိုင်ငံတွင်နေထိုင်သည့်နေရပ်လိပ်စာ

(စ) တယ်လီဖုန်း/ ဖက်စ်

(ဆ) အီးမေးလ်လိပ်စာ

မှတ်ချက်။ တရားဝင်ကိုယ်စားလှယ်လွှဲစာပူးတွဲတင်ပြရန်

၃။ ဖွဲ့စည်းမည့် စီးပွားရေးအဖွဲ့အစည်းပုံသဏ္ဍာန်

- ရာခိုင်နှုန်းပြည့် ဖက်စပ်ပြုလုပ်ခြင်း (ဖက်စပ်စာချုပ်မူကြမ်းတင်ပြရန်)
- အခြားသဘောတူညီချက်ပုံစံတစ်မျိုးမျိုးဖြင့်ဆောင်ရွက်ခြင်း (စာချုပ်မူကြမ်းတင်ပြရန်)

| | | |
|---|---|---|
| မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံသူ၏ အစုရှယ်ယာပိုင်ဆိုင်မှုအချိုး | 100 | % |
| အစိုးရဌာန၊ အစိုးရအဖွဲ့အစည်း၏ အစုရှယ်ယာပိုင်ဆိုင်မှုအချိုး | ----- | % |
| နိုင်ငံခြားသားရင်းနှီးမြှုပ်နှံသူ၏ အစုရှယ်ယာပိုင်ဆိုင်မှုအချိုး | ----- | % |

၄။ အစုရှယ်ယာ ၁၀% နှုန်းနှင့်အထက်ပိုင်ဆိုင်သောအစုရှယ်ယာရှင်များစာရင်း

| စဉ် | အစုရှယ်ယာရှင်အမည် | နိုင်ငံသား | အစုရှယ်ယာပိုင်ဆိုင်မှု % |
|---|---|---|---|
| ၁။ | ဦးတင်ထွန်း | မြန်မာနိုင်ငံသား | ၆၀ % |
| ၂။ | ဒေါ်သင်းသင်းအောင် | မြန်မာနိုင်သား | ၄၀ % |

၅။ ကုမ္ပဏီဖွဲ့စည်းခြင်းနှင့် သက်ဆိုင်သောအချက်အလက်များ

(က) ခွင့်ပြုမတည်ငွေရင်း ၁၀၀,၀၀၀,၀၀၀/- (ကျပ်သန်းတစ်ရာတိတိ)

(ခ) အစုရှယ်ယာအမျိုးအစား သာမန်ရှယ်ယာ

(ဂ) အစုရှယ်ယာဝင်များကထည့်ဝင်မည့်အစုရှယ်ယာပမာဏ ၁၀၀,၀၀၀,၀၀၀/- (ကျပ်သန်းတစ်ရာတိတိ)

မှတ်ချက်။ သင်းဖွဲ့မှတ်တမ်း/သင်းဖွဲ့စည်းမျဉ်းသို့မဟုတ် ကုမ္ပဏီဖွဲ့စည်းပုံအခြေခံစည်းမျဉ်း ပူးတွဲတင်ပြရန်

၆။ မတည်ငွေရင်းနှင့်သက်ဆိုင်သည့်အချက်အလက်များ -

ကျပ်/US$ (သန်းပေါင်း)

(က) ပြည်တွင်းမှထည့်ဝင်သည့်မတည်ငွေရင်း
ပမာဏ / ရာခိုင်နှုန်း — ၇၄၇၉.၂၅ (ကျပ်သန်းပေါင်း)

(ခ) နိုင်ငံခြားမှယူဆောင်လာသည့်မတည်ငွေရင်း
ပမာဏ / ရာခိုင်နှုန်း — -

စုစုပေါင်း — ၇၄၇၉.၂၅ (ကျပ်သန်းပေါင်း)

၇။ ရင်းနှီးမြှုပ်နှံမှုပြုလုပ်လိုသည့် သက်တမ်း — (၁၀ + ၅ + ၅) နှစ်

၈။ ဆောင်ရွက်မည့်စီးပွားရေးအဖွဲ့အစည်းနှင့် သက်ဆိုင်သောအချက်အလက်များ -

(က) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့်ဒေသ (များ) /တည်နေရာ - မြေကွက်အမှတ် - JW 070၊
၁၂/ရွှေအင်ကြင်းအနောက်ရပ်
ဒက္ခိဏသီရိမြို့နယ်၊နေပြည်တော်။

(ခ) ရင်းနှီးမြှုပ်နှံမှုတန်ဖိုး/ပမာဏ - ၇၄၇၉.၂၅ (ကျပ်သန်းပေါင်း)

၉။ သက်ဆိုင်ရာအဖွဲ့အစည်းများ၏ ခွင့်ပြုချက်၊ လိုင်စင်၊ ပါမစ်စသည်တို့ ရရှိပြီးပါကပူးတွဲတင်ပြရန်။

၁၀။ လုပ်ငန်းစတင်ဆောင်ရွက်နေခြင်း — မရှိပါ။
ရှိပါကလုပ်ငန်းဆောင်ရွက်မှုအခြေအနေကိုဖော်ပြပေးရန်
(နောက်ဆက်တွဲပုံများဖြင့် ပူးတွဲဖော်ပြအပ်ပါသည်)

၁၁။ အတည်ပြုလျှောက်ထားလွှာနှင့်အတူအောက်ဖော်ပြပါ လျှောက်ထားလွှာများကိုတင်ပြ
လျှောက်ထားခြင်းရှိ/မရှိဖော်ပြရန်။

မြေအသုံးပြုခွင့်လျှောက်ထားလွှာ — မရှိပါ။

အခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်လျှောက်ထားလွှာ — မရှိပါ။

လျှောက်ထားသူလက်မှတ်

MYANMAR NEW POWER MOTORCYCLE CO., LTD.
No...........
Date..........

အမည် — ဦးတင်ထွန်း
ရာထူး — မန်နေးဂျင်းဒါရိုက်တာ
ဌာန/ကုမ္ပဏီတံဆိပ်

U Tin Tun
Managing Director
Myanmar New Power Motorcycle Co.,Ltd.

## ကတိဝန်ခံချက်

အထက်ဖော်ပြပါ လျှောက်ထားသူမှ ပေးအပ်သည့် အချက်အလက်များအားလုံးသည် မှန်ကန်မှုရှိပါ ကြောင်းအာမခံပါသည်။

ဤအတည်ပြုလျှောက်ထားလွှာတင် အတည်ပြုမိန့် ထုတ်ပေးရန်အတွက် ကော်မရှင်မှ စိစစ်ရာ၌ လို အပ် သည့်အချက်အလက်များကိုလျှောက်ထားသူကပေးအပ်ရန် ပျက်ကွက်ပါကအတည်ပြုလျှောက်ထားလွှာ ကို ငြင်း ပယ်ခြင်းသို့မဟုတ် စိစစ်ရာ၌ မလိုလားအပ်သည့် နှောင့်နှေးကြန့်ကြာခြင်းတို့ ဖြစ်ပေါ်နိုင်ကြောင်း ကောင်းစွာသ ဘောပေါက် နားလည်ပါသည်။

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ချမှတ်မည့်စည်းမျဉ်း စည်းကမ်းများကို လည်းလိုက်နာမည်ဖြစ် ကြောင်းဝန်ခံကတိပြုအပ်ပါသည်။

လျှောက်ထားသူလက်မှတ်

MYANMAR NEW POWER MOTORCYCLE CO., LTD. ★
No............
Date..........

အမည် ဦးတင်ထွန်း
ရာထူး မန်းနေးဂျင်းဒါရိုက်တာ
ဌာန/ကုမ္ပဏီတံဆိပ်

U Tin Tun
Managing Director
Myanmar New Power Motorcycle Co.,Ltd.

# Myanmar New Power Motorcycle Company Limited

Address : No.517(11/783), 78th Street , Near Industrial Park,
Ahyartaw Quarter, Pyi Gyi Tagun Township,
Mandalay, Myanmar.

Tel : +95 9 452333126
+95 9 785188888

Email : ho.newpower@gmail.com


MYANMAR NEW POWER MOTORCYCLE CO., LTD.
No............
Date..........

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်မြို့။

ရက်စွဲ။ ။၂၀၁၈ ခုနှစ်၊ဖေဖော်ရီလ ( ၂၃ )ရက်

အကြောင်းအရာ။ ။ လူမှုရေးအကျိုးပြုလုပ်ငန်းများအတွက် လျာထားမှု (CSR) ကို လျာထား သုံးစွဲမည့် အစီအစဉ်တင်ပြခြင်း။

အထက်ဖော်ပြပါကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေအရ ကျွန်တော်များ မြန်မာနိုင်ငံသား၊တိုင်းရင်းသား လုပ်ငန်းရှင် များမှ ပိုင်ဆိုင်သော မြန်မာ့စွမ်းအားသစ် မော်တော်ဆိုင်ကယ် ကုမ္ပဏီလီမိတက် (Myanmar New Power Motorcycle Company Limited) သည် နေပြည်တော်၊ဒက္ခိဏသီရိမြို့နယ်၊ မြေကွက်အမှတ် - JW 070 ၊ မြေ ဧက ၂.၅၂၅ ပေါ်တွင် မော်တော်ဆိုင်ကယ်တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ရင်းနှီးမြှုပ်နှံလုပ်ကိုင်ဆောင်ရွက်ရန် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ခွင့်ပြုမိန့်လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

ကျွန်တော်များ မြန်မာ့စွမ်းအားသစ် မော်တော်ဆိုင်ကယ် ကုမ္ပဏီလီမိတက် (Myanmar New Power Motorcycle Company Limited) အနေဖြင့်လုပ်ငန်းလည်ပတ်မှုမှရရှိမည်ဟုခန့်မှန်းထားသည့် အသားတင်အမြတ် ငွေမှ (၂%) ကိုအောက်ပါလူမှုရေးအကျိုးပြုလုပ်ငန်း ကိစ္စရပ်များတွင် သုံးစွဲသွားပါရန် ရန်ပုံငွေအဖြစ် လျာထားပါကြောင်း တင်ပြအပ်ပါသည်။

(၁) ပညာရေးကဏ္ဍအတွက် လျာထားငွေ၏ ၅၀%

(၂) ကျန်းမာရေး အထောက်အပံ့ကိစ္စရပ်များအတွက် လျာထားငွေ၏ ၂၅%

(၃) သက်ကြီးရွယ်အို စောင့်ရှောက်မှုလုပ်ငန်းများ နှင့် ပင်စင်ရံပုံငွေအတွက် လျာထားငွေ၏ ၂၅%

လေးစားစွာဖြင့်

U Tin Tun
Managing Director
Myanmar New Power Motorcycle Co.,Ltd.

Myanmar New Power
Motorcycle Company Limited

Address : No.517(11/783), 78th Street , Near Industrial Park,
Ahyartaw Quarter, Pyi Gyi Tagun Township,
Mandalay, Myanmar.

Tel : +95 9 452333126
+95 9 785188888

Email : ho.newpower@gmail.com

သို့

ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်မြို့ ။

MYANMAR NEW POWER MOTORCYCLE CO., LTD.
No.............
Date..........

ရက်စွဲ။ ၂၀၁၈ ခုနှစ်၊ ဖေဖော်ဝါရီလ ( ၂၃ )ရက်

အကြောင်းအရာ။ ။ မီးဘေးကြိုတင်ကာကွယ်ရေး စီမံချက်တင်ပြခြင်း။

အထက်ဖော်ပြပါကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်များ မြန်မာနိုင်ငံသား၊တိုင်းရင်းသား လုပ်ငန်းရှင် များမှ ပိုင်ဆိုင်သော မြန်မာ့စွမ်းအားသစ် မော်တော်ဆိုင်ကယ် ကုမ္ပဏီလီမိတက် (Myanmar New Power Motorcycle Company Limited) သည် နေပြည်တော်၊ဒက္ခိဏသီရိမြို့နယ်၊ မြေကွက်အမှတ်-JW 070၊ မြေ ဧက ၂.၅၂၅ ပေါ်တွင် သွင်းကုန် အစားထိုးမော်တော်ဆိုင်ကယ်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ရင်းနှီးမြှုပ်နှံ လုပ်ကိုင်ဆောင်ရွက်ရန် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ခွင့်ပြုမိန့်လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

ကုမ္ပဏီအနေဖြင့် MIC ခွင့်ပြုမိန့်ရရှိသည့် အချိန်မှစတင်၍ လုပ်ငန်းလုပ်ကိုင်ရာတွင် မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်သည့်အနေဖြင့် -

(၁) မီးလောင်မှုကို ကာကွယ်ရန် သံကူ၊ ကွန်ကရစ် (RC) ဖြင့် ရေဂါလံ (၁၀,၀၀၀) ဆန့် ရေလှောင်ကန်ကြီးများကို တည်ဆောက်ထားမည် ဖြစ်ပါသည်။

(၂) ဟိုတယ်တွင် ခေတ်မီအလိုအလျောက် မီးသတ်နည်းစနစ်များ ထားရှိမည် ဖြစ်ပါသည်။

(၃) ဟိုတယ်တွင် မီးဘေးအန္တရာယ် တားဆီးကာကွယ်ရန် စည်းကမ်းချက်များထားရှိ ၍ ဝန်ထမ်းများနှင့် အလုပ်သမားများအား တိကျစွာ လိုက်နာဆောင်ရွက်နိုင်ရန် စီမံထားရှိပါမည်။

(၄)　အရေးပေါ် ခေတ်မီမီးသတ်နည်းပညာများ၊ကာကွယ်နည်းများကိုလေ့ကျင့်သင်ကြားပေးမည်ဖြစ်ပါသည်။

(၅)　လျှပ်စစ်အန္တရာယ်များမဖြစ်ပေါ် အောင်ကြိုတင်ကာကွယ်နည်းများကို ထားရှိဆောင် ရွက်သွား မည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

U Tin Tun
Managing Director
Myanmar New Power Motorcycle Co.,Ltd.

Myanmar New Power
Motorcycle Company Limited

Address : No.517(11/783), 78th Street , Near Industrial Park, Ahyartaw Quarter, Pyi Gyi Tagun Township, Mandalay, Myanmar.
Tel : +95 9 452333126
+95 9 785188888
Email : ho.newpower@gmail.com

MYANMAR NEW POWER MOTORCYCLE CO., LTD. ★
No............
Date..........

သို့
ဥက္ကဋ္ဌ၊
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်မြို့ ။

ရက်စွဲ။ ။၂၀၁၈ ခုနှစ်၊ဖေဖော်ဝါရီလ ( ၂၃ )ရက်

အကြောင်းအရာ။ ။ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းရေး အစီအစဉ်။

အထက်ဖော်ပြပါကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်များ မြန်မာနိုင်ငံသား၊တိုင်းရင်းသား လုပ်ငန်းရှင် များမှ ပိုင်ဆိုင်သော မြန်မာ့စွမ်းအားသစ် မော်တော်ဆိုင်ကယ် ကုမ္ပဏီလီမိတက် (Myanmar New Power Motorcycle Company Limited) သည် နေပြည်တော်၊ဒက္ခိဏသီရိမြို့နယ်၊ မြေကွက်အမှတ်-JW 070၊ မြေ ဧက ၂.၅၂၅ ပေါ်တွင် သွင်းကုန် အစားထိုးမော်တော်ဆိုင်ကယ်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအားလုပ်ကိုင်ဆောင် ရွက်နေစဉ် ကာလ တစ်လျှောက်လုံး၌ သဘာဝ ပတ်ဝန်းကျင်ထိန်းသိမ်းရေး လုပ်ငန်းစဉ်များကို အောက်ဖော်ပြပါအတိုင်း ဆောင်ရွက်သွားပါမည်။

(က) ဟိုတယ်ဝန်းကျင်တွင် လေကာပင်များအပါအဝင် မြေနေရာအားလုံးကို အလှမြက်များ စိုက်ပျိုးခြင်း၊ လမ်းများကို ကွန်ကရစ်ခင်းခြင်းများ ဆောင်ရွက်သွားပါမည်။

(ခ) ပတ်ဝန်းကျင်ကို ထိခိုက်စေမည့် လေထုညစ်ညမ်းမှု မဖြစ်စေရန် လိုအပ်သည်များကို တာဝန်ယူ ဆောင်ရွက်ပါမည်။

(ဂ) လေထုညစ်ညမ်းမှုမှ ကာကွယ်ရန် ညစ်ညမ်းလေ ထုတ်လွှတ်မှုနည်းသော စက်ပစ္စည်းများ၊ နည်းပညာများကို အသုံးပြုပါမည်။

(ဃ) ပတ်ဝန်းကျင်အကျိုးသက်ရောက်မှု လျှော့လာချက်၊ လူနေမှုပတ်ဝန်းကျင် အကျိုးသက်ရောက်မှု လျှော့လာချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းမှုဆိုင်ရာ အစီအမံများအား လိုအပ်ပါက သက်ဆိုင်ရာ ဌာနများသို့ လျှောက်ထား၍ တင်ပြသွားပါမည်။

လေးစားစွာဖြင့်

U Tin Tun
Managing Director
Myanmar New Power Motorcycle Co.,Ltd.

**Myanmar New Power**
**Motorcycle Company Limited**

Address : No.517(11/783), 78th Street , Near Industrial Park,
Ahyartaw Quarter, Pyi Gyi Tagun Township,
Mandalay, Myanmar.
Tel : +95 9 452333126
+95 9 785188888
Email : ho.newpower@gmail.com

MYANMAR NEW POWER MOTORCYCLE CO., LTD.
No............
Date..........

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၊
ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ရန်ကုန်မြို့။

ရက်စွဲ။ ။၂၀၁၈ ခုနှစ်၊ဖေဖော်ဝါရီလ ( ၂၃ )ရက်

အကြောင်းအရာ။ ။ တည်ဆောက်ရေးကာလ၊ အမှန်တကယ်ရင်းနှီးမြှုပ်နှံမည့်တည်နေရာ၊နှင့် သုံးစွဲမည့် Brand မှတ်ပုံတင်ခြင်းအတွက် တင်ပြခြင်း။

အထက်ဖော်ပြပါကိစ္စနှင့် စပ်လျဉ်း၍ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ကျွန်တော်များ မြန်မာနိုင်ငံသား၊တိုင်းရင်းသား လုပ်ငန်းရှင် များမှ ပိုင်ဆိုင်သော မြန်မာ့စွမ်းအားသစ် မော်တော်ဆိုင်ကယ် ကုမ္ပဏီလီမိတက် (Myanmar New Power Motorcycle Company Limited) သည် နေပြည်တော်၊ဒက္ခိဏသီရိမြို့နယ်၊ မြေကွက်အမှတ် - JW 070 ၊ မြေ ဧက ၂.၅၂၅ ပေါ်တွင် မော်တော်ဆိုင်ကယ်တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းလုပ်ငန်းအား ရင်းနှီးမြှုပ်နှံ လုပ်ကိုင်ဆောင်ရွက်ရန် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ ခွင့်ပြုမိန့်လျှောက်ထားသော ကုမ္ပဏီဖြစ်ပါသည်။

ကျွန်တော်များ မြန်မာ့စွမ်းအားသစ် မော်တော်ဆိုင်ကယ် ကုမ္ပဏီလီမိတက် (Myanmar New Power Motorcycle Company Limited)အနေဖြင့်တည်ဆောက်ရေးကာလ၊ အမှန်တကယ် ရင်းနှီး မြှုပ်နှံ မည့် တည်နေရာ၊နှင့် သုံးစွဲမည့် Brand မှတ်ပုံတင်ခြင်းတို့အတွက် အောက်ပါအတိုင်းတင်ပြအပ်ပါသည်။

(၁) မော်တော်ဆိုင်ကယ်တပ်ဆင်ထုတ်လုပ်ရောင်းချခြင်းအတွက် လိုအပ်သောအဆောက်အဦးများသည် ၅၀ % ခန့်ဆောက်လုပ်ပြီးစီးနေပြီဖြစ်ပါသောကြောင့် တည်ဆောက်ရေးကာလအား (၁) နှစ် ခန့်သတ်မှတ်ပါသည်။

(၂) အမှန်တကယ်ရင်းနှီးမြှုပ်နှံမည့်တည်နေရာမှာ နေပြည်တော်၊ဒက္ခိဏသီရိမြို့နယ်၊ မြေကွက်အမှတ် - JW 070 ၊ မြေ ဧက ၂.၅၂၅ ဖြစ်ပါသည်။

(၃) မြန်မာ့စွမ်းအားသစ် မော်တော်ဆိုင်ကယ် ကုမ္ပဏီလီမိတက် (Myanmar New Power Motorcycle Company Limited) သည် စာချုပ်စာတမ်းမှတ်ပုံတင်ရုံးတွင် မြန်မာနိုင်ငံ၌ Brand (3) မျိုးမှတ်ပုံတင်ထားရှိပြီး ဈေးကွက်လိုအပ်ချက်အရ သုံးစွဲသွားမည်ဖြစ်ပါသည်။

လေးစားစွာဖြင့်

U Tin Tun
Managing Director
Myanmar New Power Motorcycle Co.,Ltd.

ရန်ကုန်မြို့

စာချုပ်စာတမ်းများ မှတ်ပုံတင်ရုံးတော်၌ မှတ်ပုံတင်သွင်းချုပ်ဆိုသော

# "ကုန်အမှတ်တံဆိပ်အမည်အမှတ်အသားကို ကုမ္ပဏီမူပိုင်အဖြစ် ပြုလုပ်သုံးစွဲရန် အလို့ငှာ မှတ်ပုံတင်သွင်းခြင်း"

<u>မှတ်ပုံတင်သွင်းကြေငြာသူ။</u> ။ မြန်မာ့စွမ်းအားသစ်မော်တော်ဆိုင်ကယ်ကုမ္ပဏီလီမိတက်

**MYANMAR NEW POWER MOTORCYCLE COMPANY LIMITED**

ကုမ္ပဏီမှတ်ပုံတင်အမှတ် - ၂၀၅/၂၀၁၇-၂၀၁၈ (နပတ)

[ ၎င်းကုမ္ပဏီ၏ကိုယ်စား (၂၉-၉-၂၀၁၇) နေ့စွဲပါ အစည်းအဝေး ဆုံးဖြတ်ချက်အရ ဦးစိုင်းအောင်အောင်(ဘ) ဦးပေါက်ရင် (၁၃/လရန (နိုင်) ၁၃၀၂၃၁) မှ လက်မှတ်ရေးထိုးပါသည်။ ]

တိုက်အမှတ်-၂၈၈/၂၉၀၊ အခန်းအမှတ်-၇၀၁၊ ၇-လွှာ၊ ရွှေတိဂုံဘုရားလမ်း၊ ယောမင်းကြီးရပ်ကွက်၊ ဒဂုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

ရန်ကုန်မြို့။

၂၀၁၇ ခုနှစ်၊ အောက်တိုဘာလ ( ၂ ) ရက်။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE
၂၀၀ကျပ် K 200

# "ကုန်အမှတ်တံဆိပ်အမည်အမှတ်အသားကို ကုမ္ပဏီမူပိုင်အဖြစ် ပြုလုပ်သုံးစွဲရန် အလို့ငှာ မှတ်ပုံတင်သွင်းခြင်း"

၂၀၁၇ ခုနှစ်၊ အောက်တိုဘာလ ( ၂ ) ရက်နေ့တွင်၊ ရန်ကုန်မြို့ စာချုပ်စာတမ်းများမှတ်ပုံတင်ရုံး၌ အောက်အမည်ပါသူမှ အောက်တွင် ကပ်နှိပ်ဖော်ပြထားသော တံဆိပ်အမည်အမှတ်အသားကို ကုမ္ပဏီမူပိုင်အဖြစ် ပြုလုပ်သုံးစွဲရန်အတွက် မှတ်ပုံတင်သွင်းကြေညာသည်မှာ –

<u>မှတ်ပုံတင်သွင်းကြေငြာသူ</u> ။ ။ မြန်မာ့စွမ်းအားသစ်မော်တော်ဆိုင်ကယ်ကုမ္ပဏီလီမိတက်
**MYANMAR NEW POWER MOTORCYCLE COMPANY LIMITED**
ကုမ္ပဏီမှတ်ပုံတင်အမှတ် – ၂၀၅/၂၀၁၇–၂၀၁၈ (နပတ)
[ ၄င်းကုမ္ပဏီ၏ကိုယ်စား (၂၉–၉–၂၀၁၇) နေ့စွဲပါ အစည်းအဝေးဆုံးဖြတ်ချက်အရ ဦးစိုင်းအောင်အောင်(ဘ) ဦးပေါက်ရင် (၁၃/လရန (နိုင်) ၁၃၀၂၃၁) မှ လက်မှတ်ရေးထိုးပါသည်။ ]
တိုက်အမှတ်–၂၈၈/၂၉၀၊ အခန်းအမှတ်–၇၀၁၊
၇–လွှာ၊ ရွှေတိဂုံဘုရားလမ်း၊ ယောမင်းကြီးရပ်ကွက်၊
ဒဂုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

<u>မှတ်ပုံတင်သွင်းသည့် တံဆိပ်အမည်အမှတ်အသား</u>

NEW POWER

၁။ အထက်တွင် ကပ်နှိပ်ဖော်ပြထားသော တံဆိပ်အမည်အမှတ်အသားမှာ အဖြူရောင်အောက်ခံပေါ်တွင် အနီရောင်ကန့်လန့်အစင်းဖြင့် အင်္ဂလိပ် အက္ခရာစာလုံးအကြီး **N** ဟုပုံဖော်ထားပြီး ၎င်းနှင့် တစ်ဆက်တည်း ထိကပ်လျက် အနီရောင်အင်္ဂလိပ်အက္ခရာစာလုံးအကြီး **P** ဟုပုံဖော်ထားပြီး ၎င်း၏အောက်တွင် အနီရောင် အင်္ဂလိပ်အက္ခရာစာလုံးအကြီးဖြင့် ***"NEW POWER"*** ဟု ပုံဖော်ထားသည့် ကုန်အမှတ်တံဆိပ်အမည် အမှတ်အသားဖြစ်ပါသည်။

၂။ ယင်းကုန်အမှတ်တံဆိပ်အမည်အမှတ်အသားကို မှတ်ပုံတင်သွင်းသည့် ကုမ္ပဏီသည် မော်တော်ဆိုင်ကယ်တွင် တပ်ဆင်အသုံးပြုမည့် **Tyre** အမျိုးမျိုး၊ **Tube** အမျိုးမျိုး၊ **Battery** အမျိုးမျိုး၊ **Chain** အမျိုးမျိုး၊ **Spocket Set** အမျိုးမျိုး၊ မီးသီးအမျိုးမျိုး၊ ဒူးကာ၊ ခေါင်းဖုံး၊ ဘီး၊ အင်ဂျင်ဝိုင်၊ ဘရိတ်ဆီ၊ ချောဆီ၊ စက်ဆီ၊ အင်ဂျင်ဆီ၊ အားဖြည့် စက်ဆီ၊ အမဲဆီ၊ **Lubricants** အမျိုးမျိုး၊ မော်တော်ဆိုင်ကယ်နှင့် ဆက်စပ်အပိုပစ္စည်း အမျိုးမျိုးတို့တွင် အသုံးပြုရန်ဖြစ်ပါသည်။

၃။ အထက်ပါပစ္စည်းများ ရောင်းဝယ်ဖြန့်ချိရေးလုပ်ငန်းများကို (၂၇-၉-၂၀၁၇) နေ့မှစတင်၍ အထက်ပါလိပ်စာ၌ ရုံးခန်းဖွင့်လှစ်ပြီး ရန်ကုန်မြို့နှင့်တကွ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတစ်ဝှမ်းလုံးတွင်လည်း ဆိုင်ခန်းများ ဖွင့်လှစ်၍ ၎င်းကုန်အမှတ်တံဆိပ်အမည်အမှတ်အသားဖြင့် လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်လျက်ရှိပါသည်။ ၎င်းပစ္စည်းများကို မိမိတို့ကိုယ်တိုင် ထုတ်လုပ်၍သော်လည်းကောင်း၊ ပြည်တွင်း/ပြည်ပမှ မှာယူတင်သွင်း၍သော် လည်းကောင်း ဖြန့်ဖြူးရောင်းချလျက်ရှိပါသည်။

၄။ အထက်တွင်ကပ်နှိပ်ဖော်ပြထားသော ကုန်အမှတ်တံဆိပ်အမှတ်အသားကို ယနေ့တိုင် မည်သူ တစ်ဦးတစ်ယောက်မျှ သုံးစွဲနေသည်ကို မတွေ့မြင် မကြားရသေးပါ။ ကုမ္ပဏီ၏ ကိုယ်ပိုင်ဉာဏ်ဖြင့်တီထွင် အသုံးပြုထားသော တံဆိပ်အမည်အမှတ်အသားဖြစ်ပါသည်။

၅။ တဖန် မှတ်ပုံတင်သွင်းသူ ကုမ္ပဏီသည် အထက်ပါကုန်အမှတ်တံဆိပ်ဖြင့် အဆိုပါကုန်ပစ္စည်းများ အပေါ်တွင် ၎င်းကုန်အမှတ်တံဆိပ်အမည်အမှတ်အသားကို အရောင်အမျိုးမျိုး၊ အရွယ်အစားအမျိုးမျိုးတို့ဖြင့် ပြုလုပ်ပြီးလျှင် စာရွက်စာတမ်းများ၊ ကြော်ငြာ၊ လက်ကမ်းကြော်ငြာ၊ ရေဒီယိုရုပ်မြင်သံကြားကြော်ငြာ၊ မဂ္ဂဇင်း၊ ဂျာနယ်၊ ဘလောက်တံး၊ ဒီဇိုင်း၊ တံဆိပ်တုံး ငွေရပြေစာ၊ ဆိုင်းဘုတ်၊ ဗီနိုင်း၊ ဗီဒီယို၊ ပြက္ခဒိန်၊ အင်တာနက်၊ **Webside, Email, Letter Head** တို့တွင်လည်းကောင်း၊ အခြားခေတ်မီ ပေါ်ပေါက်လာသည့် နည်းပညာများတွင် လည်းကောင်း၊ အထက်ပါ ကုန်အမှတ်တံဆိပ်ဖြင့် ရိုက်နှိပ်၍ ရန်ကုန်မြို့နှင့်တကွ ပြည်ထောင်စုသမ္မတ မြန်မာနိုင်ငံအနှံ့အပြားတွင် ဖြန့်ချီသုံးစွဲသွားမည်ဖြစ်ပါသည်။

၆။ သို့ဖြစ်၍ အဆိုပါ တံဆိပ်အမည်အမှတ်အသား မိမိမှတစ်ပါး အခြားမည်သူတစ်ဦးတစ်ယောက်က ဖြစ်စေ၊ အများဖြစ်စေ၊ တစိတ်တဒေသကိုဖြစ်စေ၊ သွယ်ဝိုက်၍ ဖြစ်စေ၊ ပုံတူပုံမှား၊ ထင်ယောင်ထင်မှား

ထိခိုက်နစ်နာဆုံးရှုံးကုန်ကျသမျှသော အရပ်ရပ်စရိတ်ကြေးငွေများအတွက် လျော်ကြေးငွေများကို တောင်းခံသွားနိုင်ရန် ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်အတွင်းရှိ မည်သည့်တရားရုံးများတွင်မဆို တရားမကြောင်း၊ ရာဇဝတ်ကြောင်းတို့အရ တရားစွဲဆိုလျက် လျော်ကြေးငွေများ တောင်းခံသွားမည်ဖြစ်ကြောင်း အောက်ပါအသိသက်သေများရှေ့မှောက်တွင် လက်မှတ်ရေးထိုးကာ ဤကပ်နိုပ်ဖော်ပြထားသော တံဆိပ်အမည်အမှတ်အသားကို မိမိတို့ ကုမ္ပဏီမှုပိုင်အဖြစ် သုံးစွဲရန် မှတ်ပုံတင်သွင်းကြေငြာအပ်ပါသည်။

မြန်မာ့စွမ်းအားသစ်မော်တော်ဆိုင်ကယ်ကုမ္ပဏီလီမိတက်
**MYANMAR NEW POWER MOTORCYCLE COMPANY LIMITED**
ကုမ္ပဏီမှတ်ပုံတင်အမှတ် - ၂၀၅/၂၀၁၇-၂၀၁၈ (နပတ)
[ ၄င်းကုမ္ပဏီ၏ကိုယ်စား (၂၉-၉-၂၀၁၇) နေ့စွဲပါ အစည်းအဝေး ဆုံးဖြတ်ချက်အရ ဦးစိုင်းအောင်အောင်(ဘ) ဦးပေါက်ရင် (၁၃/လရန (နိုင်) ၁၃၀၂၃၁) မှ လက်မှတ်ရေးထိုးပါသည်။ ]
ကုမ္ပဏီမှုပိုင်အဖြစ် မှတ်ပုံတင်သွင်းသူ

အသိသက်သေများ

၁။ ------------------------------

------------------------------

------------------------------

------------------------------

------------------------------

၂။ ------------------------------

ဒေါ်ဝေနှင်းစိုး (ဘ) ဦးစိုးမင်း
၁၂/ဒဂတ (နိုင်) ၀၄၄၀၇
အမှတ်-၅၀၊ ဘဏ်လမ်း၊
ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့။

(၁)

ရန်ကုန်မြို့

စာချုပ်စာတမ်းများ မှတ်ပုံတင်ရုံးတော်၌ မှတ်ပုံတင်သွင်းချုပ်ဆိုသော

# "ကုန်အမှတ်တံဆိပ်အမည်အမှတ်အသားကို ကုမ္ပဏီမူပိုင်အဖြစ် ပြုလုပ်သုံးစွဲရန် အလို့ငှာ မှတ်ပုံတင်သွင်းခြင်း"

မှတ်ပုံတင်သွင်းကြေငြာသူ။ ။ မြန်မာ့စွမ်းအားသစ်မော်တော်ဆိုင်ကယ်ကုမ္ပဏီလီမိတက်

**MYANMAR NEW POWER MOTORCYCLE COMPANY LIMITED**

ကုမ္ပဏီမှတ်ပုံတင်အမှတ် - ၂၀၅/၂၀၁၇-၂၀၁၈ (နပတ)

[ ၎င်းကုမ္ပဏီ၏ကိုယ်စား (၂၉-၉-၂၀၁၇) နေ့စွဲပါ အစည်းအဝေး ဆုံးဖြတ်ချက်အရ ဦးစိုင်းအောင်အောင်(ဘ) ဦးပေါက်ရင် (၁၃/လရန (နိုင်) ၁၃၀၂၃၁) မှ လက်မှတ်ရေးထိုးပါသည်။ ]

တိုက်အမှတ်-၂၈၈/၂၉၀၊ အခန်းအမှတ်-၇၀၁၊ ၇-လွှာ၊ ရွှေတိဂုံဘုရားလမ်း၊ ယောမင်းကြီးရပ်ကွက်၊ ဒဂုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

ရန်ကုန်မြို့။

၂၀၁၇ ခုနှစ်၊ အောက်တိုဘာလ ( ၂ ) ရက်။

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE
၂၀၀ကျပ် K 200

# "ကုန်အမှတ်တံဆိပ်အမည်အမှတ်အသားကို ကုမ္ပဏီမူပိုင်အဖြစ် ပြုလုပ်သုံးစွဲရန် အလို့ငှာ မှတ်ပုံတင်သွင်းခြင်း"

၂၀၁၇ ခုနှစ်၊ အောက်တိုဘာလ ( ၂ ) ရက်နေ့တွင်၊ ရန်ကုန်မြို့ စာချုပ်စာတမ်းများမှတ်ပုံတင်ရုံး၌ အောက်အမည်ပါသူမှ အောက်တွင် ကပ်နှိပ်ဖော်ပြထားသော တံဆိပ်အမည်အမှတ်အသားကို ကုမ္ပဏီမူပိုင်အဖြစ် ပြုလုပ်သုံးစွဲရန်အတွက် မှတ်ပုံတင်သွင်းကြေညာသည်မှာ -

<u>မှတ်ပုံတင်သွင်းကြေငြာသူ</u> ॥ ॥ မြန်မာ့စွမ်းအားသစ်မော်တော်ဆိုင်ကယ်ကုမ္ပဏီလီမိတက်
**MYANMAR NEW POWER MOTORCYCLE COMPANY LIMITED**
ကုမ္ပဏီမှတ်ပုံတင်အမှတ် - ၂၀၅/၂၀၁၇-၂၀၁၈ (နပတ)
[ ၎င်းကုမ္ပဏီ၏ကိုယ်စား (၂၉-၉-၂၀၁၇) နေ့စွဲပါ အစည်းအဝေးဆုံးဖြတ်ချက်အရ ဦးစိုင်းအောင်အောင်(ဘ) ဦးပေါက်ရင် (၁၃/လရန (နိုင်) ၁၃၀၂၃၁) မှ လက်မှတ်ရေးထိုးပါသည်။ ]
တိုက်အမှတ်-၂၈၈/၂၉၀၊ အခန်းအမှတ်-၇၀၁၊
၇-လွှာ၊ ရွှေတိဂုံဘုရားလမ်း၊ ယောမင်းကြီးရပ်ကွက်၊
ဒဂုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

<u>မှတ်ပုံတင်သွင်းသည့် တံဆိပ်အမည်အမှတ်အသား</u>

TARYAN

၁။ အထက်တွင် ကပ်နှိပ်ဖော်ပြထားသော တံဆိပ်အမည်အမှတ်အသားမှာ အဖြူရောင်အောက်ခံပေါ်တွင် အနီရောင်အင်္ဂလိပ်အက္ခရာ စာလုံးအကြီးဖြင့် ***"TARYAN"*** ဟု ပုံဖော်ထားသည့် ကုန်အမှတ်တံဆိပ်အမည်အမှတ်အသားဖြစ်ပါသည်။

၂။ ယင်းကုန်အမှတ်တံဆိပ်အမည်အမှတ်အသားကို မှတ်ပုံတင်သွင်းသည့် ကုမ္ပဏီသည် မော်တော်ဆိုင်ကယ်တွင် တပ်ဆင်အသုံးပြုမည့် **Tyre** အမျိုးမျိုး၊ **Tube** အမျိုးမျိုး၊ **Battery** အမျိုးမျိုး၊ **Chain** အမျိုးမျိုး၊ **Spocket Set** အမျိုးမျိုး၊ မီးသီးအမျိုးမျိုး၊ ဒူးကာ၊ ခေါင်းဖုံး၊ ဘီး၊ အင်ဂျင်ဝိုင်၊ အရိုက်ဆီ၊ ချောဆီ၊ စက်ဆီ၊ အင်ဂျင်ဆီ၊ အားဖြည့် စက်ဆီ၊ အမဲဆီ၊ **Lubricants** အမျိုးမျိုး၊ မော်တော်ဆိုင်ကယ်နှင့် ဆက်စပ်အပိုပစ္စည်းအမျိုးမျိုးတို့တွင် အသုံးပြုရန်ဖြစ်ပါသည်။

၃။ အထက်ပါပစ္စည်းများ ရောင်းဝယ်ဖြန့်ချီရေးလုပ်ငန်းများကို (၂၇-၉-၂၀၁၇) နေ့မှစတင်၍ အထက်ပါလိပ်စာ၌ ရုံးခန်းဖွင့်လှစ်ပြီး ရန်ကုန်မြို့နှင့်တကွ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတစ်ဝှမ်းလုံးတွင်လည်း ဆိုင်ခန်းများ ဖွင့်လှစ်၍ ၄င်းကုန်အမှတ်တံဆိပ်အမည်အမှတ်အသားဖြင့် လုပ်ငန်းလုပ်ကိုင်ဆောင်ရွက်လျက်ရှိပါသည်။ ၄င်းပစ္စည်းများကို မိမိတို့ကိုယ်တိုင် ထုတ်လုပ်၍သော်လည်းကောင်း၊ ပြည်တွင်း/ပြည်ပမှ မှာယူတင်သွင်း၍သော် လည်းကောင်း ဖြန့်ဖြူးရောင်းချလျက်ရှိပါသည်။

၄။ အထက်တွင်ကပ်နှိပ်ဖော်ပြထားသော ကုန်အမှတ်တံဆိပ်အမှတ်အသားကို ယနေ့တိုင် မည်သူတစ်ဦးတစ်ယောက်မျှ သုံးစွဲနေသည်ကို မတွေ့မြင် မကြားရသေးပါ။ ကုမ္ပဏီ၏ ကိုယ်ပိုင်ဉာဏ်ဖြင့်တီထွင် အသုံးပြုထားသော တံဆိပ်အမည်အမှတ်အသားဖြစ်ပါသည်။

၅။ တဖန် မှတ်ပုံတင်သွင်းသူ ကုမ္ပဏီသည် အထက်ပါကုန်အမှတ်တံဆိပ်ဖြင့် အဆိုပါကုန်ပစ္စည်းများပေါ်တွင် ၄င်းကုန်အမှတ်တံဆိပ်အမည်အမှတ်အသားကို အရောင်အမျိုးမျိုး၊ အရွယ်အစားအမျိုးမျိုးတို့ဖြင့် ပြုလုပ်ပြီးလျှင် စာရွက်စာတမ်းများ၊ ကြော်ငြာ၊ လက်ကမ်းကြော်ငြာ၊ ရေဒီယိုရုပ်မြင်သံကြားကြော်ငြာ၊ မဂ္ဂဇင်း၊ ဂျာနယ်၊ ဘလောက်တုံး၊ ဒီဇိုင်း၊ တံဆိပ်တုံး ငွေရပြေစာ၊ ဆိုင်းဘုတ်၊ ဗီနိုင်း၊ ဗီဒီယို၊ ပြက္ခဒိန်၊ အင်တာနက်၊ **Webside, Email, Letter Head** တို့တွင်လည်းကောင်း၊ အခြားခေတ်မှီ ပေါ်ပေါက်လာသည့် နည်းပညာများတွင်လည်းကောင်း၊ အထက်ပါ ကုန်အမှတ်တံဆိပ်ဖြင့် ရိုက်နှိပ်၍ ရန်ကုန်မြို့နှင့်တကွ ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံအနှံ့အပြားတွင် ဖြန့်ချီသုံးစွဲသွားမည်ဖြစ်ပါသည်။

၆။ သို့ဖြစ်၍ အဆိုပါ တံဆိပ်အမည်အမှတ်အသား မိမိမှတစ်ပါး အခြားမည်သူတစ်ဦးတစ်ယောက်က ဖြစ်စေ၊ အများဖြစ်စေ၊ တစိတ်တဒေသကိုဖြစ်စေ၊ သွယ်ဝိုက်၍ ဖြစ်စေ၊ ပုံတူပုံမှား၊ ထင်ယောင်ထင်မှား ဆင်တူယိုးမှား၊ တုပပြုလုပ်သုံးစွဲနေသည်တို့ကို တွေ့မြင်ကြားသိရပါက မိမိတို့ကုမ္ပဏီလုပ်ငန်း အကျိုးစီးပွား

ထိခိုက်နစ်နာဆုံးရှုံးကုန်ကျသမျှသော အရပ်ရပ်စရိတ်ကြေးငွေများအတွက် လျော်ကြေးငွေများကို တောင်းခံသွားနိုင်ရန် ပြည်ထောင်စု သမ္မတမြန်မာနိုင်ငံတော်အတွင်းရှိ မည်သည့်တရားရုံးများတွင်မဆို တရားမကြောင်း၊ ရာဇဝတ်ကြောင်းတို့အရ တရားစွဲဆိုလျက် လျော်ကြေးငွေများ တောင်းခံသွားမည်ဖြစ်ကြောင်း အောက်ပါအသိသက်သေများရှေ့မှောက်တွင် လက်မှတ်ရေးထိုးကာ ဤကပ်နှိပ်ဖော်ပြထားသော တံဆိပ်အမည်အမှတ်အသားကို မိမိတို့ ကုမ္ပဏီမူပိုင်အဖြစ် သုံးစွဲရန်၊ မှတ်ပုံတင်သွင်းကြေငြာအပ်ပါသည်။

မြန်မာ့စွမ်းအားသစ်မော်တော်ဆိုင်ကယ်ကုမ္ပဏီလီမိတက်
**MYANMAR NEW POWER MOTORCYCLE COMPANY LIMITED**
ကုမ္ပဏီမှတ်ပုံတင်အမှတ် - ၂၀၅/၂၀၁၇-၂၀၁၈ (နပတ)
[ ၎င်းကုမ္ပဏီ၏ကိုယ်စား (၂၉-၉-၂၀၁၇) နေ့စွဲပါ အစည်းအဝေးဆုံးဖြတ်ချက်အရ ဦးစိုင်းအောင်အောင်(ဘ) ဦးပေါက်ရင် (၁၃/လရန (နိုင်) ၁၃၀၂၃၁) မှ လက်မှတ်ရေးထိုးပါသည်။ ]
<u>ကုမ္ပဏီမူပိုင်အဖြစ် မှတ်ပုံတင်သွင်းသူ</u>

<u>အသိသက်သေများ</u>

၁။ ----------------------------
ဦးစိုင်းအောင်မြိုင် (ဘ) ဦးပေါက်ရင်
၁၃/လရန(နိုင်)၁၃၀၂၃၀
[illegible]
လားရှိုးမြို့

၂။ ----------------------------
ဒေါ်ဝေနှင်းစိုး (ဘ) ဦးစိုးမင်း
၁၂/ဒဂတ (နိုင်) ဝ၆၄ဝ၀၇
အမှတ်-၅၀၊ ဘဏ်လမ်း၊
ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့။

ရန်ကုန်မြို့

စာချုပ်စာတမ်းများ မှတ်ပုံတင်ရုံးတော်၌ မှတ်ပုံတင်သွင်းချုပ်ဆိုသော

# "ကုန်အမှတ်တံဆိပ်အမည်အမှတ်အသားကို ကုမ္ပဏီမူပိုင်အဖြစ် မြဲလုပ်သုံးစွဲရန် အလို့ငှာ မှတ်ပုံတင်သွင်းခြင်း"

မှတ်ပုံတင်သွင်းကြေငြာသူ။ ။ မြန်မာ့စွမ်းအားသစ်မော်တော်ဆိုင်ကယ်ကုမ္ပဏီလီမိတက်

**MYANMAR NEW POWER MOTORCYCLE COMPANY LIMITED**

ကုမ္ပဏီမှတ်ပုံတင်အမှတ် – ၂၀၅/၂၀၁၇–၂၀၁၈ (နပတ)

[ ၎င်းကုမ္ပဏီ၏ကိုယ်စား (၂၉–၉–၂၀၁၇) နေ့စွဲပါ အစည်းအဝေး ဆုံးဖြတ်ချက်အရ ဦးစိုင်းအောင်အောင်(ဘ) ဦးပေါက်ရင် (၁၃/လရန (နိုင်) ၁၃၀၂၃၁) မှ လက်မှတ်ရေးထိုးပါသည်။ ]

တိုက်အမှတ်–၂၈၈/၂၉၀၊ အခန်းအမှတ်–၇၀၁၊ ၇–လွှာ၊ ရွှေတိဂုံဘုရားလမ်း၊ ယောမင်းကြီးရပ်ကွက်၊ ဒဂုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

ရန်ကုန်မြို့။

၂၀၁၇ ခုနှစ်၊ အောက်တိုဘာလ ( ၂ ) ရက်။

ပြည်ထောင်စု သမ္မတ မြန်မာနိုင်ငံတော်
အထူးကပ်တံဆိပ်ခေါင်း
SPECIAL ADHESIVE
၂၀၀ကျပ် K 200

# “ကုန်အမှတ်တံဆိပ်အမည်အမှတ်အသားကို ကုမ္ပဏီမူပိုင်အဖြစ် ပြုလုပ်သုံးစွဲရန် အလို့ငှာ မှတ်ပုံတင်သွင်းခြင်း”

၂၀၁၇ ခုနှစ်၊ အောက်တိုဘာလ ( ၂ ) ရက်နေ့တွင်၊ ရန်ကုန်မြို့ စာချုပ်စာတမ်းများမှတ်ပုံတင်ရုံး၌ အောက်အမည်ပါသူမှ အောက်တွင် ကပ်နှိပ်ဖော်ပြထားသော တံဆိပ်အမည်အမှတ်အသားကို ကုမ္ပဏီမူပိုင်အဖြစ် ပြုလုပ်သုံးစွဲရန်အတွက် မှတ်ပုံတင်သွင်းကြေညာသည်မှာ –

<u>မှတ်ပုံတင်သွင်းကြေငြာသူ</u> ။ ။ မြန်မာ့စွမ်းအားသစ်မော်တော်ဆိုင်ကယ်ကုမ္ပဏီလီမိတက်
**MYANMAR NEW POWER MOTORCYCLE COMPANY LIMITED**
ကုမ္ပဏီမှတ်ပုံတင်အမှတ် – ၂၀၅/၂၀၁၇–၂၀၁၈ (နပတ)
[ ၎င်းကုမ္ပဏီ၏ကိုယ်စား (၂၉–၉–၂၀၁၇) နေ့စွဲပါ အစည်းအဝေး ဆုံးဖြတ်ချက်အရ ဦးစိုင်းအောင်အောင်(ဘ) ဦးပေါက်ရင် (၁၃/လရန (နိုင်) ၁၃၀၂၃၁) မှ လက်မှတ်ရေးထိုးပါသည်။ ]
တိုက်အမှတ်–၂၈၈/၂၉၀၊ အခန်းအမှတ်–၇၀၁၊
၇–လွှာ၊ ရွှေတိဂုံဘုရားလမ်း၊ ယောမင်းကြီးရပ်ကွက်၊ ဒဂုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

<u>မှတ်ပုံတင်သွင်းသည့် တံဆိပ်အမည်အမှတ်အသား</u>

**SUPER THAI**

